




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၄၀/၉၆

၁၉၉၆ ခုနှစ် ဆက်တင်ဘာ လ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်တော်ကျင်းလုပ်ငန်း

(ခ) အဘအမည် ...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...

(ဃ) နေရပ်လိပ်စာ ဆင်မလိုက်ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အမ်အက်စ်ဝု(ဒ်)ဝါ(ခ်)ကုမ္ပဏီလီမိတက်
( MS Woodwork Co., Ltd . )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား
သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဆင်မလိုက်ရပ်ကွက်၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၂.၆ ဂသန်း ( ကျပ်နှစ်ဆယ့်နှစ်သန်း ခြောက်သိန်း ခုနှစ်သောင်းခန့် )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၃၂/၉၆
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ တော်သလင်းလပြည့်ကျော် (၃) ရက်။
(၁၉၉၆ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်)

၁။ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် Standard Myanmar Company Ltd. - တို့ဖက်စပ်၍ ( M S Woodwork Co., Ltd.) အမ်အက်စ်ဝုဒ်(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်တည်ထောင်ကာ ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဆင်မလိုက်ရပ်ကွက်၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ရှိသစ်သားထည်ပစ္စည်း စက်ရုံတွင်သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၃-၈-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂၅-၉-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၂/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာအစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ခန်း (၅)၊ ပုဒ်မ-၁၀ အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံး၍ ( M S Woodwork Co., Ltd.) အမ်အက်စ်ဝုဒ်(ဒ်)ဝါ(ခ်) ကုမ္ပဏီလီမိတက်အား သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုကနဦး ၁၅ နှစ်နှင့် နောက်ထပ် ၅ နှစ်တိုးမြှင့်ခွင့်နှင့် ဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၄၀/၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ M S Woodwork Co., Ltd. - အနေဖြင့် ခွင့်ပြုမိန့်အရ သစ်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေခန်း (၇)၊ ပုဒ်မ-၁၂ အရစီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်

နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်အမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(ခ)အရလုပ်ငန်းမှနိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ်တွင် (၁၀) ရာခိုင်နှုန်းအထိကာလ အကန့်အသတ်ဖြင့်ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြ လျှက်၍ ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ဂ)အရကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်ထည့်နှုန်းအထိပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃([illegible])အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်းလုပ်ငန်း၌ပြန်လည် ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ် ခွင့်သို့မဟုတ်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်း လွတ်ခွင့်ကာလကုန်ဆုံးပြီး၍အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံ မှုပြုသည့်အခါလုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျှက်ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဆ)အရလုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတို နှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်စပ် လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကိုကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ - ၁၃ (ဇ) အရကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ပြည်ပမှ တင်သွင်းသောစက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန် နှင့်အခြားပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံးကိုကင်း လွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ - ၁၃ (ဈ) အရသတ်မှတ်ထားသည့်ကနဦး ရင်း နှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ် ရန်ပြည်ပမှတင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်း များအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အ ကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ - ၁၃ (ဇ) အရပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများ နှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import - ) ဥပမာ - ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy - back System ) စသည်တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List ) များကိုနိုင်ငံခြားမတည်ငွေရင်း တန်ဖိုးသတ်မှတ်ရေးအဖွဲ့ထံသို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်နိုင်ရန်အတွက်မြန်မာ့သဘော်ကျင်း လုပ်ငန်းနှင့်စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်တို့၏သစ်အခြေခံပစ္စည်းထုတ်လုပ်ရေး ဖက်စပ်လုပ်ငန်း ပဋိညာဉ်စာချုပ်နှင့်ငှားရမ်းခြင်းသဘောတူကတိစာချုပ်တို့ကို လက်မှတ်ရေးထိုးပြီးသည့်အခါယင်းသဘောတူစာချုပ်မိတ္တူ (၁) စောင်စီကိုပါ ကော်မရှင်ရုံးသို့တင်ပြရမည်။

၅။ ငှားရမ်းကာလသည် ငှားရမ်းခြင်းသဘောတူကတိစာချုပ် (မူကြမ်း) တွင် လျှောက်ထားတင်ပြသည့်အတိုင်း ကနဦး (၁၅) နှစ်နှင့် နောက်ထပ် (၅) နှစ်သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။ ထိုသို့သက်တမ်းတိုးမြှင့်လိုလျှင် ကနဦး (၁၅) နှစ်မကုန်မီ (၃) နှစ်ကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်။ အသစ်ငှားရမ်းခြင်းကာလအတွက်ပင် ဥပဒေအသစ်ကိုပြန်လည်ချုပ်ဆို၍ ငှားရမ်းခအသစ်နှုန်း ဖြင့်ပြင်ဆင်ညှိနှိုင်းရမည်။ ငှားရမ်းခများကို ကွင်းပြင်ဧရိယာစတုရန်းမီတာ ၆၀၇၉.၆ အတွက် တစ်နှစ်လျှင်တစ်စတုရန်းမီတာလျှင်ကျပ် ၈၀ နှုန်းဖြင့်လည်းကောင်း၊ အဆောက်အဦ တည်ရှိသောဧရိယာစတုရန်းမီတာ ၃၀၂၅.၈ အတွက်တစ်နှစ်လျှင်တစ်စတုရန်းမီတာ လျှင်ကျပ် ၁၅၀ နှုန်းဖြင့်စုစုပေါင်း ဧရိယာ ၂.၂၅ ဧကအတွက်ကျပ် ၉၄၆၃၀၀ (ကျပ် ကိုးသိန်း လေးသောင်း ခြောက်ထောင်သုံးရာတိတိ) ကို ပေးချေရမည်။ ငှားရမ်းခ များကို (၅) နှစ်တစ်ကြိမ်ပြန်လည်သုံးသပ်ရမည်။ ထိုသို့သုံးသပ်ရာတွင်လက်ရှိနှုန်းထား၏ (၁၅) ရာခိုင်နှုန်း ထက်မပိုသောနှုန်းဖြင့်ပြန်လည်ညှိနှိုင်းသုံးသပ်ရမည်။

၆။ ထိုသို့မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အငှားချထားသူနှင့်အငှား ချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ် သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင် ရွက်ရမည်။

၇။ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက် (Standand Myanmar Co.,Ltd.) သည် မိမိထည့်ဝင်ရမည့်အစုငွေ၏ ၁၀ ရာခိုင်နှုန်းဖြစ်သောကျပ် ၁၀၂၀၀၀၀ (ကျပ် တစ်သန်းနှစ်သောင်းတိတိ) ကိုဘဏ်အာမခံကြေးအဖြစ်မြန်မာ့သင်္ဘောကျင်းလုပ်ငန်း က သတ်မှတ်ပေးသည့်ဘဏ်တစ်ခုခုတွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်လအတွင်း ထားရှိရမည်။

၈။ အမ်အက်စ်ဝုဒ် (ဒ်) ဝါ (ခ်) ကုမ္ပဏီလီမိတက် (MS Woodwork Co., Ltd. ) ကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီမှတ်ပုံတင်နိုင်ရန်အတွက်ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအားမှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာရွက်စာ တမ်း (၅) စောင်စီကို ကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation )

(ခ) ကုမ္ပဏီများ ညွှန်ကြားမှုဌာနကအတည်ပြုပြီး ဖြစ်သည့်မြန်မာ-အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသောကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၉။ အမ်အက်စ် ဝုဒ်ဝေါ့(ခ်) ကုမ္ပဏီလီမိတက် ( MS Woodwork Co., Ltd. ) သည်ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ ထိန်းသိမ်းကာကွယ်ရေး အစီအမံများ ကိုစနစ်တကျထား၍ ဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်းစတင် ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့အမြန်ဆုံး အစီရင်ခံရမည်။

၁၁။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
[ ဝန်ကြီး ၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ရက - ၁/ မ - ၀၃၅/ ၉၆ ( ၀၉၃၄ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး ။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။
၃။ အစိုးရအဖွဲ့ရုံး ။

၄။ ဒုတိယဝန်ကြီးချုပ်ရုံး ။

၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန ။

၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။

၈။ သစ်တောရေးရာဝန်ကြီးဌာန။

၉။ ပို့ဆောင်ရေးဝန်ကြီးဌာန။

၁၀။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုဘဏ်[illegible]စာရင်းအင်းနှင့်စစ်ဆေးရေး
ဦးစီးဌာန)။

၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း ။

၁၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များ
အသင်း ။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သင်္ဘောကျင်းလုပ်ငန်း ။

၂၁။ ဥက္ကဋ္ဌ၊ စတင်းဒတ်မြန်မာကုမ္ပဏီလီမိတက်။
(Standard Myanmar Co., Ltd. )

အမိန့်အရ -

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး



ပ၁* ၂၃/၉/၉၆။